အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Naung Lon River Lodge Co., Ltd. မှ လုံးချင်းအဆောက်အဦများဆောက်လုပ်၍ ကြယ်၄ပွင့်အဆင့်ရှိ Resort များ ဖွင့်လှစ်ဆောင်ရွက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်း ကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - **Naung Lon River Lodge Co., Ltd.** |
| | ရင်းနှီးမြှုပ်နှံသူ | - Mr.Bruno.Armand Francois,Marie Boulier |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr.Bruno.Armand Francois,Marie Boulier -45%(ပြင်သစ်)<br>- Mr.Gwenael,Pierre,Michel Le Gars -25%(ပြင်သစ်)<br>- Mrs,Sophie,Marie,Yvonne,Le Ferrec Ep Le Gars -20%(ပြင်သစ်)<br>- ဒေါ်နွယ်နွယ်ခိုင် -5%(မြန်မာ)<br>- ဦးဇော်ဝင်းမိုး -5%(မြန်မာ) |
| | လုပ်ငန်းအမျိုးအစား | - လုံးချင်းအဆောက်အဦများ ဆောက်လုပ်၍ ကြယ်၄ပွင့်အဆင့်ရှိ **Resort** များ ဖွင့်လှစ်ဆောင်ရွက်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(၅၁/၁၅၁/၂၅၈၅၉)၊ သုံးဆယ်ပေးကွင်း၊ ကွင်းအမှတ်(၃၉၀)၊ သုံးဆယ်ပေးကျေးရွာအုပ်စု၊ မတ္တရာ မြို့နယ်၊ ပြင်ဦးလွင်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက် | - ဒေါ်နွယ်နွယ်ခိုင်<br>- ၇.၇၀ဧက (၃၁၁၆၀.၈၂၂စတုရန်းမီတာ)<br>- သဘာဝ အခြေခံ ခြေတံရှည်အိမ်(ဘန်ဂလို) (၂၀)လုံး<br>- ဧည့်ကြိုဆောင်နှင့်စားသောက်ခန်း၊မီးဖိုချောင်<br>- အများသုံးသန့်စင်ခန်း<br>- ရေကူးကန်(အကြီး/အငယ်)၊Pool House<br>- ဝန်ထမ်းအိမ်ရာ<br>- Service Building<br>- Organic Farm<br>- Transformer & Generator Room |
| | နှစ်စဉ်မြေငှားရမ်းခ | - အမေရိကန်ဒေါ်လာ၁၅၀၀၀/-(တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၀.၄၈၁/- |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လို | - ကနဦးနှစ်(၅၀)နှင့် (၁၀)နှစ်သက်တမ်းတိုး ၂ကြိမ် |

<table>
<tr><td></td><td>သည့်သက်တမ်း</td><td></td></tr>
<tr><td>၅။</td><td>တည်ဆောက်မှုကာလ</td><td>- ၁နှစ်</td></tr>
<tr><td>၆။</td><td><br>ငွေသား<br>ဟိုတယ်သုံးစက်ပစ္စည်း(ပြည်ပဝယ်)<br>မော်တော်ယာဉ်(ပြည်တွင်းဝယ်)<br>ပရိဘောဂ(ပြည်တွင်းဝယ်)<br>စုစုပေါင်းမတည်ငွေရင်းပမာဏ</td><td>
<table>
<tr><th></th><th>နိုင်ငံခြား US$ သန်း</th><th>နိုင်ငံသား US$ သန်း</th><th>စုစုပေါင်း US$ သန်း</th></tr>
<tr><td>ငွေသား</td><td>၀.၃၀၀</td><td></td><td>၀.၃၀၀</td></tr>
<tr><td>ဟိုတယ်သုံးစက်ပစ္စည်း(ပြည်ပဝယ်)</td><td>၀.၁၄၁</td><td></td><td>၀.၁၄၁</td></tr>
<tr><td>မော်တော်ယာဉ်(ပြည်တွင်းဝယ်)</td><td></td><td>၀.၀၄၂</td><td>၀.၀၄၂</td></tr>
<tr><td>ပရိဘောဂ(ပြည်တွင်းဝယ်)</td><td></td><td>၀.၀၀၇</td><td>၀.၀၀၇</td></tr>
<tr><td>စုစုပေါင်းမတည်ငွေရင်းပမာဏ</td><td>၀.၄၄၁</td><td>၀.၀၄၉</td><td>၀.၄၉၀</td></tr>
</table>
</td></tr>
<tr><td>၇။</td><td>ဆောင်ရွက်မည့်နည်းစနစ်</td><td>- ဟိုတယ်ဝန်ဆောင်မှု</td></tr>
<tr><td>၈။</td><td>ဝန်ဆောင်ခနှုန်း</td><td>
<table>
<tr><th rowspan="2">အမျိုးအစား</th><th rowspan="2">အရေ အတွက်</th><th colspan="2">ငှားရမ်းခနှုန်း</th></tr>
<tr><th>ကျပ်</th><th>US$</th></tr>
<tr><td>Superior Room (ဘန်ဂလို ခြေတံရှည်အိမ်)</td><td>၂၀</td><td>၄၈၀၀၀/-</td><td>၈၅/-</td></tr>
</table>
(၂၃ ပေ x ၂၈ ပေ ၄ လက်မ) အကျယ်ရှိ ခြေတံရှည် လုံးချင်းအိမ် တစ်လုံး ဖြစ်ပြီး (၂) ယောက်ခန်း (ခုတင် ၂ လုံး)၊ ဧည့်ခန်း၊ ရေပူ/ရေအေး ပါ ရေချိုးခန်း၊ လေအေး ပေးစက်၊ ပန်ကာများ ပါဝင်ပါသည်။)
</td></tr>
<tr><td>၉။</td><td>ဝန်ထမ်းခန့်ထားမှု</td><td>
<table>
<tr><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td>ဦးရေ</td><td>၅၀</td><td>၂</td></tr>
<tr><td>အမြင့်ဆုံးလစာ</td><td>ကျပ် ၁,၂၀၀,၀၀၀/-</td><td>US$ ၃၀၀၀/-</td></tr>
<tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ် ၂၀၀,၀၀၀/-</td><td>US$ ၂၀၀၀/-</td></tr>
</table>
</td></tr>
<tr><td>၁၀။</td><td>CSR အစီအစဉ်</td><td>- လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% သုံးစွဲမည်ဖြစ်ကြောင်း၊ ပညာရေးကဏ္ဍတွင် ၂၀%၊ ကျန်းမာရေးကဏ္ဍတွင် ၂၀%၊ လူမှုရေးကဏ္ဍတွင်၂၀%၊ သဘာဝဘေးအန္တရာယ်ကာကွယ်ရေး လုပ်ငန်းများတွင် ၂၀% နှင့် ဒေသဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းများတွင် ၂၀% သုံးစွဲမည် ဖြစ်ပါသည်။</td></tr>
<tr><td>၁၁။</td><td>မီးဘေးကြိုတင် ကာကွယ်မှု စီမံချက်</td><td>- မီးဘေးကြိုတင် ကာကွယ်မှု အနေဖြင့် ၆၀၀၀ လီတာဝင် သည့် Tank (၃) လုံး တည်ဆောက်ထားရှိမည် ဖြစ်ပြီး</td></tr>
</table>

| | | |
|---|---|---|
| | | ဘန်ဂလိုတိုင်းတွင် Fire Alarm System ပါရှိခြင်း၊ မီးလောင်မှုမှ ကာကွယ်ရန် ဘန်ဂလိုများအား သံကူကွန်ကရစ် (Steel Structure) ဖြင့် တည်ဆောက်ခြင်း၊ နောက်ဖေးလှေကား၊ မီးသတ် Alarm၊ မီးသတ်ပိုက်၊ မီးသတ်ဆေးဘူးများ အဆင်သင့် ထားရှိခြင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင် ဆောင်ရွက်ထားရှိခြင်း တို့ကို ဆောင်ရွက်သွားမည်ဖြစ် ပါသည်။ |
| ၁၂။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအစီအစဉ် | - သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။ |
| ၁၃။ | လုပ်ငန်းခွင် သာယာရေး နှင့် သက်သာချောင်ချိရေး အစီအစဉ် | - ကြို/ပို့ယာဉ်များနှင့် ဝန်ထမ်းအိမ်ယာများ စီစဉ်ပေးခြင်း၊ အချိန်ပိုကြေးပေးခြင်း၊ ခွင့်ရက်မပျက် ဝန်ထမ်းများအား အပိုဆု ကြေးပေးခြင်း၊ နှစ်စဉ်ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်း၊ ကျန်းမာရေး စောင့်ရှောက်မှု အတွက် ဆေးသေတ္တာများထားရှိခြင်း၊ နာမကျန်းသူနားနေခန်း ထားရှိခြင်း၊ လူမှုဖူလုံရေး ဝင်ရောက်စေခြင်း၊ အခါအားလျော်စွာ ကျန်းမာရေးပညာပေးသင်တန်းများသို့ (၃)လ တစ်ကြိမ်စေလွှတ်သင်ကြားပေးခြင်း၊ နှစ်ရှည် ဝန်ထမ်းများအတွက် ဆေးကုသစရိတ် ထောက်ပံ့ပေးခြင်းတို့ကို ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | အခြားတင်ပြချက်များ | - မြေပိုင်ရှင် ဦးဇော်ဝင်းမိုး၊ ဒေါ်နွယ်နွယ်ခိုင်နှင့် မြေအငှားချထားခြင်းခံရသူ Naung Lon River Lodge Co., Ltd.တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း) နှင့် မြေပိုင်ရှင် ဒေါ်နွယ်နွယ်ခိုင် အမည်ဖြင့် တည်းခိုရိပ်သာဆောက်လုပ်ရန်အခြားနည်း အသုံးပြုခွင့်ရရှိထားသည့်မိတ္တူအထောက်အထားများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - လုပ်ငန်းအတွက်အသုံးပြုမည့်ဟိုတယ်သုံး စက်ပစ္စည်းများအား ပြည်ပမှဝယ်ယူ အသုံးပြု မည် ဖြစ်ပါသည်။<br>- ဘန်ဂလို တစ်လုံး ခြင်းစီတွင် မြန်မာ့ရိုးရာ ကျေးလက် ပုံစံ အပြင်ခေါင်မိုး ကို ကောက်ရိုးမိုးပြီး အောက်တွင် သွပ်ပြားနှင့် အတွင်းဘက်မှ ရေလုံပလိတ်ပြားဖြူ ကာပေးထားမည် ဖြစ်ကြောင်း၊ ဧည့်သည်များ မျက်စိပသာဒ ဖြစ်စေရန် မြေပေါ်တွင် စပါး၊ ငရုတ်နှင့်နှမ်းများ စိုက်ပျိုးထားပြီး တည်းခိုနေထိုင်သူများနှင့် ဝန်ထမ်းများ စားသုံးရန် ရည်ရွယ်ထားပါကြောင်း တင်ပြထားပါသည်။<br>- ဝန်ထမ်း၊ အလုပ်သမားများ၏လုပ်ခ၊ လစာနှင့် ပတ်သက်၍ သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေ များ၊ စည်းမျဉ်း စည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်း များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိတင်ပြထားပါသည်။<br>- အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမား တို့အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက်ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်းဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိတင်ပြထားပါသည်။<br>- ရင်းနှီးမြှုပ်နှံသူ၏နိုင်ငံကူးလက်မှတ်မိတ္တူကိုတင်ပြထားပါသည်။ |
| ၁၅။ | **စိစစ်တင်ပြချက်** | - မန္တလေးတိုင်းဒေသကြီး အတွင်း ဟိုတယ်လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု (၄) ခုနှင့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု (၃၀) ခုတို့ကို ခွင့်ပြုမိန့် ထုတ်ပေး ထားပြီး မန္တလေးတိုင်း ဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ ထုတ်ပေးထားသည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု (၁) ခုနှင့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု (၃) ခုတို့ ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် (၂) တွင် ပါဝင် သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၅ နှစ် ခံစားခွင့် လျှောက်ထား နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ၂၂ / ၄၄ / ၀၃ ( န-၂၆) ( ၃၉၇ /၂၀၁၉)၊
ရက်စွဲ ၊၂၀၁၉ ခုနှစ်၊ မေလ ၂၃ ရက်။

## မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Naung Lon River Lodge Co., Ltd. မှ လုံးချင်းအဆောက်အဦများဆောက်လုပ်၍ ကြယ်၄ပွင့်အဆင့်ရှိ Resort များ ဖွင့်လှစ်ဆောင်ရွက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်း ကိစ္စ။

၁။ Naung Lon River Lodge Co., Ltd. (Mr.Bruno.Armand Francois, Marie Boulier (ပြင်သစ်) ၄၅%၊ Mr.Gwenael,Pierre,Michel Le Gars (ပြင်သစ်)၂၅%၊ Mrs,Sophie,Marie, Yvonne, Le Ferrec Ep Le Gars (ပြင်သစ်)၂၀% နှင့် ဒေါ်နွယ်နွယ်ခိုင်(မြန်မာ)၅%၊ ဦးဇော်ဝင်းမိုး (မြန်မာ)၅%) မှ ဦးပိုင်အမှတ် (၅၁/၁၊ ၅၁/၂၊ ၅၈၊ ၅၉)၊ သုံးဆယ်ပေးကွင်း၊ ကွင်းအမှတ်(၃၉၀)၊ သုံးဆယ်ပေးကျေးရွာအုပ်စု၊ မတ္တရာမြို့နယ်၊ ပြင်ဦးလွင်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး ရှိ ၇.၇၀ဧက (၃၁၁၆၀.၈၂၂စတုရန်းမီတာ)ကိုငှားရမ်း၍ လုံးချင်းအဆောက်အဦများဆောက်လုပ်၍ ကြယ်၄ပွင့် အဆင့်ရှိ Resortများ ဖွင့်လှစ် ဆောင်ရွက် ခြင်းလုပ်ငန်းအား ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးဇော်ဝင်းမိုး၊ ဒေါ်နွယ်နွယ်ခိုင်နှင့် မြေအငှားချထားခြင်းခံရသူ Naung Lon River Lodge Co., Ltd.တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) နှင့် မြေပိုင်ဆိုင်မှု အထောက် အထားများ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် အချက်အလက်များ၊ ရင်းနှီးမြှုပ်နှံသူ ၏ Passport မိတ္တူများ ပူးတွဲတင်ပြ ထားပါသည်။

၃။ တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၄၉၀သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အသေးစိတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အကြောင်းအရာ | နိုင်ငံခြား US$ သန်း | နိုင်ငံသား US$ သန်း | စုစုပေါင်း US$ သန်း |
|---|---|---|---|
| ငွေသား | ၀.၃၀၀ | | ၀.၃၀၀ |
| ဟိုတယ်သုံးစက်ပစ္စည်း(ပြည်ပဝယ်) | ၀.၁၄၁ | | ၀.၁၄၁ |
| မော်တော်ယာဉ်(ပြည်တွင်းဝယ်) | | ၀.၀၄၂ | ၀.၀၄၂ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း(ပြည်တွင်းဝယ်) | | ၀.၀၀၇ | ၀.၀၀၇ |
| စုစုပေါင်း | ၀.၄၄၁ | ၀.၀၄၉ | ၀.၄၉၀ |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၅၀) ဦး နှင့် ပြည်ပ(၂)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ လစာမှာ အနိမ့်ဆုံး ကျပ် ၂၀၀,၀၀၀/- နှင့် အမြင့်ဆုံး ကျပ် ၁,၂၀၀,၀၀၀/- ဖြစ်ပြီး ပြည်ပပညာရှင် တစ်ဦး၏ လစာမှာ အနိမ့်ဆုံး US$ ၂၀၀၀/- နှင့် အမြင့်ဆုံး US$ ၃၀၀၀/- ဖြစ်ပါသည်။

၆။ ဘန်ဂလို အရေအတွက်နှင့် ဝန်ဆောင်ခ နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | အရေ အတွက် | ငှားရမ်းခနှုန်း | |
|---|---|---|---|
| | | (ကျပ်) | (US$) |
| Superior Room (ဘန်ဂလို ခြေတံရှည်အိမ်) | ၂၀ | ၄၈၀၀၀/- | ၈၅/- |

(၂၃ ပေ x ၂၈ ပေ ၄ လက်မ) အကျယ်ရှိ ခြေတံရှည် လုံးချင်းအိမ် တစ်လုံး ဖြစ်ပြီး (၂) ယောက်ခန်း (ခုတင် ၂ လုံး)၊ ဧည့်ခန်း၊ ရေပူ/ရေအေး ပါ ရေချိုးခန်း၊ လေအေး ပေးစက်၊ ပန်ကာများ ပါဝင်ပါသည်။)

၇။ **စိစစ်တင်ပြချက်**

(က) အဆိုပြုမြေပေါ်တွင် ဘန်ဂလို(၂၅)လုံး ဆောက်လုပ်မည်ဖြစ်ပါသည်။

(ခ) CSR အနေဖြင့် လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% ကို ပညာရေးကဏ္ဍတွင် ၂၀% ၊ကျန်းမာရေးကဏ္ဍတွင် ၂၀%၊ လူမှုရေးကဏ္ဍတွင်၂၀%၊ သဘာဝဘေး အန္တရာယ်ကာကွယ်ရေးလုပ်ငန်းများတွင်၂၀%၊ဒေသဖွံ့ဖြိုး တိုးတက်ရေး လုပ်ငန်းများတွင် ၂၀% သုံးစွဲမည် ဖြစ်ပါသည်။

(ဂ) **မီးဘေးကြိုတင် ကာကွယ်မှု** အနေဖြင့် ၆၀၀၀ လီတာဝင် သည့် Tank (၃) လုံး တည်ဆောက်ထားရှိမည် ဖြစ်ပြီး ဘန်ဂလိုတိုင်းတွင် Fire Alarm System ပါရှိခြင်း၊ မီးလောင်မှုမှ ကာကွယ်ရန် ဘန်ဂလိုများအား သံကူ ကွန်ကရစ် (Steel Structure) ဖြင့် တည်ဆောက်ခြင်း၊ နောက်ဖေးလှေကား၊ မီးသတ် Alarm၊ မီးသတ်ပိုက်၊ မီးသတ်ဆေးဘူးများ အဆင်သင့် ထားရှိခြင်း၊ ဝန်ထမ်းများ ကိုလည်း မီးဘေးအရေပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်း ပညာများ လေ့ကျင့်သင်ကြား ပေးခြင်း၊ လျှပ်စစ်နှင့် ပတ်သက် သည့် အန္တရာယ်များ မဖြစ်ပေါ်အောင် ဆောင်ရွက်ထားရှိခြင်း တို့ကို ဆောင်ရွက်သွားမည်ဖြစ် ပါသည်။

(ဃ) **ပတ်ဝန်းကျင် ညစ်ညမ်းမှု** မရှိစေရေးအတွက် သဘာဝပတ်ဝန်းကျင်နှင့် လူမှု ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီ အစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။

(င) လုပ်ငန်းခွင်သက်သာချောင်ချိရေးအနေဖြင့် ကြို/ပို့ယာဉ်များနှင့် ဝန်ထမ်းအိမ်ယာ များ စီစဉ်ပေးခြင်း၊ အချိန်ပိုကြေးပေးခြင်း၊ ခွင့်ရက်မပျက် ဝန်ထမ်းများအား

အပိုဆု ကြေးပေးခြင်း၊ နှစ်စဉ်ပျော်ပွဲရွှင်ပွဲများ ပြုလုပ် ပေးခြင်း၊ ကျန်းမာရေး စောင့်ရှောက်မှု အတွက် ဆေး သေတ္တာများထားရှိခြင်း၊ နာမကျန်းသူနားနေခန်း ထားရှိခြင်း၊ လူမှုဖူလုံရေး ဝင်ရောက်စေခြင်း၊ အခါအားလျော်စွာ ကျန်းမာရေး ပညာပေး သင်တန်းများသို့ (၃) လ တစ်ကြိမ် စေလွှတ်သင်ကြားပေးခြင်း၊ နှစ်ရှည် ဝန်ထမ်းများအတွက် ဆေးကုသစရိတ် ထောက်ပံ့ပေးခြင်းတို့ကို ဆောင်ရွက် ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) **ဝန်ထမ်း အလုပ်သမားများ၏ လုပ်ခ၊ လစာ နှင့်ပတ်သက်၍ သက်ဆိုင်ရာ** တည်ဆဲ ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့် ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများနှင့် အညီလိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

(ဆ) ပတ်ဝန်းကျင်တည်နေရာပြမြေပုံ နှင့် ဆောက်လုပ်မည့် အဆောက်အဦပုံစံ(မိတ္တူ) တင်ပြထားပါသည်။

(ဇ) လုပ်ငန်းအတွက်အသုံးပြုမည့်ဟိုတယ်သုံး စက်ပစ္စည်းများ အား ပြည်ပမှဝယ်ယူ အသုံးပြုမည် ဖြစ်ပါသည်။

(ဈ) မန္တလေးတိုင်းဒေသကြီး အတွင်း ဟိုတယ်လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (၄) ခုနှင့် မြန်မာနိုင်ငံသား ရင်းနှီး မြှုပ်နှံမှု(၁၀) ခုတို့ကို ခွင့်ပြုမိန့်ထုတ်ပေးထားပြီး မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ ထုတ်ပေးထားသည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (၁)ခုနှင့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု (၃) ခုတို့ ပါဝင် ပါသည်။

(ည) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသောဒေသ ဇုန် (၂) တွင် ပါဝင်သဖြင့် ဝင်ငွေခွန်ကင်း လွတ်ခွင့် ၅ နှစ် ခံစားခွင့် လျှောက်ထားနိုင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Naung Lon River Lodge Co., Ltd. မှ လုံးချင်း အဆောက်အဦများ ဆောက်လုပ်၍ ကြယ်၄ပွင့်အဆင့်ရှိ Resort များ ဖွင့်လှစ်ဆောင်ရွက်ခြင်း လုပ်ငန်းအား** ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နွယ်နီဦး၊အတွင်းရေးမှူး)



E:\Naung Lon\naung lon river (memo).doc